လျှို့ဝှက်

CARD NO.(2) ၈၃ ORIGINAL

| | |
|---|---|
| 1. Name and Address of Enterprise<br>လုပ်ငန်းအမည်နှင့် လိပ်စာ<br>ASIA WORLD COMPANY LIMITED.<br>NO.(61-62), BAHOSI COMPOUND,<br>WARDAN STREET, LANMADAW TOWNSHIP,<br>YANGON. | 4. Registration No. & Date 20 5 94<br>ကြိုးကြပ်အမှတ်နှင့် နေ့စွဲ<br>HTA THA KA<br>2977<br>Union of Myanmar<br>Ministry of Commerce<br>Directorate of Trade<br>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ<br>စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန<br>CERTIFICATE OF EXPORTER/IMPORTER REGISTRATION<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ် |
| 2. Contact No. ဆက်သွယ်ရန်<br>225271,220074 227474<br>Telephone No. တယ်လီဖုန်းနံပါတ် / Fax No. ဖက်စ်နံပါတ် / Telex No. တဲလက်စ်နံပါတ် | |
| 3. Business Registration No. 120/1992-93<br>လုပ်ငန်းမှတ်ပုံတင်အမှတ် | Note: [ ] Please tick (✓) where applicable<br>သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ |

5. Type of Business လုပ်ငန်းအမျိုးအစား

- [ ] a) Sole Proprietorship တစ်ဦးတည်းပိုင်
- [ ] b) Partnership အစုစပ်
- [x] c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ / နိုင်ငံခြား)
- [ ] d) Co-operative Society သမဝါယမအသင်း
- [ ] e) Others (please specify) ............ အခြား (ဖော်ပြရန်)

6. Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for THREE year(s) up to 20-5-94 TO 19-5-97
မှတ်ပုံတင်သက်တမ်း

မှတ်ချက်။ ။ သက်တမ်းတိုးရန် နေ့စဉ်မှတ်တမ်း၊ ကဒ်အမှတ်(၂)ကိုထုတ်ပေးသည်။
(မှ) 29-2-2008 မှ 28-8-2008 (ယာယီ)

XXXXXX
For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(MG WIN-ASSISTANT DIRECTOR)

KHIN ZAW-DEPUTY DIRECTOR

Date 25.3.2005

Stamp
ရုံးတံဆိပ်

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်သော သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

23/3/05

(1) 20.5.2005 up to 19.11.2005 နေ့မှ ထိ — AUNG SOE-DEPUTY DIRECTOR

(2) 20.11.2005 up to 19.5.2006 — THAN THAN EI-ASSISTANT DIRECTOR

THAN THAN EI-ASSISTANT DIRECTOR

(3) ............ up to ............ ............

လျှို့ဝှက်

သက်တမ်းတိုးမြှင့်သည့်ကာလ

(၅) ၂၉-၈-၂၀၀၈ To 31-3-2010
(Co Reg - သက်တမ်းတိုးမြှင့်သည်)

5/6

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ရကေ-၆(က)/မ-၉၇၀/၂၀၀၉ (၁၅၈၉ ၃)

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဩဂုတ် လ ၁၂ ရက်။

အကြောင်းအရာ။ ။ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ (ရေတာရှည်-ပျဉ်းမနား)လမ်းအပိုင်းအား ပြုပြင် ဖောက်လုပ် ၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အတွက် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

ရည် ညွှန်း ချက် ။ ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန ၏ (၁၄-၇-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ -၂/ ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၄၈၀၃)၊

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်း ကို (၂၉-၇-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်။

(က) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ (ရေတာရှည်-ပျဉ်းမနား)လမ်းအပိုင်း (မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင် ၂၂၁/၂ အထိ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉)မိုင် (၅.၅) ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံရန်၊

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း (တစ်မိုင်နှုန်း/ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်ထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

Y-M (ASIA WORLD)

(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတား တည်ဆောက်သည့်ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်၊

(ဂ) စာမျက်နှာ(၃)အပိုဒ်(ဆ)"အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့် လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသ ကို မူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်၊

(ဃ) လမ်း၊ တံတား များမှာ standard နှင့် အညီ ဖောက်လုပ် ထားပါက ရန်ကုန် - မန္တလေး အမြန်လမ်းမနှုန်း အတိုင်း ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတား အသုံးပြုခကောက်ခံခွင့်မပြုရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သကဲ့သို့ဆောင်ရွက်ပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန် လုပ်ငန်းအဆိုပြုလွှာ (၁၃)စုံ ကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ် ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

ဝန်ကြီးရုံး၊
ဆောက်လုပ်ရေး ဝန်ကြီးဌာန။

မိတ္တူ-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

(၂) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်၊

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

ရုံးတွင်းစာအကျဥ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇူလိုင် လ ၂၃ ရက်၊

အကြောင်းအရာ။ ။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး ၏ (ရေတာရှည် - ပျဥ်းမနား ) လမ်းအပိုင်း အား ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ရန် အတွက် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

M-727
23/7

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် (Asia World Co., Ltd.) သည် ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး ၏ ရေတာရှည်- ပျဥ်းမနား လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့်အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပါလမ်းအပိုင်းသည် မူလက ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် က ဖောက်လုပ်ခဲ့သည့် လမ်းအပိုင်း ဖြစ်ပြီး (၁၂-၅-၂၀၀၇)နေ့မှ စ၍ ဒဂုံအင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်က အေးရှားဝါး(လ် )ကုမ္ပဏီလီမိတက်သို့ လွှဲပြောင်းပေးခဲ့ခြင်း ဖြစ်ပါသည်။

၃။ လမ်းအသုံးပြုခ ကောက်ခံနှုန်းများမှာ (၁၂-၅-၂၀၀၇)နေ့မှ (၃၁-၁-၂၀၀၉)နေ့အထိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှုန်းဖြင့်လည်းကောင်း၊ (၁-၁-၂၀၀၉)နေ့မှစ၍ ယခင် BOT နှုန်းဖြင့်လည်းကောင်း ကောက်ခံလျှက် ရှိပါကြောင်း တင်ပြထားပါသည်။ ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက အထက်မှ မူချမှတ်ပေးခဲ့သည့် နှုန်းသစ်ဖြင့် ကောက်ခံမည်ဖြစ်ကြောင်း သိရှိရပါသည်။ ဌာနမှ တွက်ချက်တင်ပြလာသည့် လမ်း၊တံတား အသုံးပြုခကောက်ခံနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ အလံ "၁"

(ကျပ်)

| စဥ် | ယာဥ်အမျိုးအစား | ပဆင နှုန်း (တစ်မိုင်) | ယခင် BOT နှုန်း (တစ်မိုင်) | ယခုပြင်ဆင်တင်ပြသည့်နှုန်းသစ် (တစ်မိုင်နှုန်း) | တံတား နှုန်း (တစ်စီး) |
|---|---|---|---|---|---|
| ၁။ | ဆိုင်ကယ်/မြင်းလှည်း/ ထော်လာဂျီ | - | - | - | ၅ |
| ၂။ | (၁)တန်အောက်ယာဥ်ငယ် | ၀.၆၀ | ၂.၀၈ | ၄.၁၃ | ၃၀ |
| ၃။ | (၁)တန်မှ(၃)တန်အထိယာဥ်ငယ်များ | ၁.၅၀ | ၆.၂၅ | ၁၂.၃၉ | ၄၀ |
| ၄။ | (၅) တန်အောက်ကားကြီးများ | ၂.၅၀ | ၁၀.၄၂ | ၂၀.၆၅ | ၆၀ |
| ၅။ | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီး များ | ၂.၅၀ | ၂၀.၈၃ | ၄၁.၃၀ | ၁၀၀ |
| ၆။ | (၂၀)တန်အထိကုန်တင်ယာဥ်ကြီး များ | ၃.၁၅ | ၄၁.၆၇ | ၈၂.၅၉ | ၁၅၀ |
| ၇။ | (၂၀)တန်အထက်တန်ပို (၁)တန် လျှင် | ၆.၂၅ | ၄.၁၇ | ၈.၂၆ | ၁၅၀ |

၄။ ယခင် BOT ကောက်ခံနှုန်းမှာ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၂/၂၀၀၈) (၁၈-၃-၂၀၀၈) နှင့် (၁၃/၂၀၀၈) (၂၆-၃-၂၀၀၈) အစည်းအဝေးများမှ မူချမှတ်ပေးခဲ့သည့် တစ်ပြေးညီ ကောက်ခံနှုန်းများ ဖြစ်ပါသည်။ အလံ "၂"

၅။ ယခု ပြင်ဆင်တင်ပြသည့် BOT နှုန်းသစ်မှာ အကြီးအကဲ၏ ခွင့်ပြုချက် ရရှိပြီး ဖြစ်ပါကြောင်း မိန့်မှတ်ချက် မိတ္တူများကို တင်ပြလာပါသည်။ အလံ "၃"

၆။ ယင်းအဆိုပြုချက်အား (၂၆-၆-၂၀၀၉) နေ့တွင် ကျင်းပ သော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၂၂/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန်ဆုံးဖြတ်ခဲ့ပါသည်။

၇။ ယခုအခါ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ နောက်ဆက်တွဲများ ပေးပို့လာပါသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြမည့် <u>အမှာစာ( စာချော)</u> တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၈။ အထက်ပါ အပိုဒ် (၃)(၄)နှင့် (၅)တို့ကို အမှာစာတွင် ထည့်သွင်းဖော်ပြထားခြင်း မရှိပါ။ ဥက္ကဋ္ဌ သိသာပါရန် အနေဖြင့် TC Brief တွင် ပူးတွဲတင်ပြပါမည်။

၉။ လမ်းညွှန်မှု ခံယူအပ်ပါသည်။

(ဗိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

<u>ဥက္ကဋ္ဌ</u>

အထွေထွေ အရပ်ရပ်-၁၆
(ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်) စာကြမ်းရေးရန်)

အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ (၂၉-၇-၂၀၀၉)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကော်မတီ၏ (၂၄/၂၀၀၉)အစည်းအဝေး ဆုံးဖြတ်ချက် အကြောင်းပြန်ကြားမည့် စာကြမ်းအား ပြုစုတင်ပြအပ်ပါသည်။

11/8

11/8/2009
(နွယ်နီဦး)

ညွှန်ကြားရေးမှူး

11/8/09

ပ-၂

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

အထက်အကြောင်းအရာပါ ကိစ္စ နှင့် စပ်လျဉ်း၍ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၄ / ၂၀၀၉) (၂၉ - ၇ - ၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက် အကြောင်းပြန်ကြားမည့် စာချော တွင် လက်မှတ် ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြ အပ်ပါသည်။

11/8/09

(ကျော်ဒွန်း)
ညွှန်ကြားရေးမှူး

အတွင်းရေးမှူး

၁၂/၈/၀၉



လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီ အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၇-ခ | ၇၀၄ | (က) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ (ရေတာရှည်-ပျဉ်းမနား) လမ်းအပိုင်း(မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင်၂၂၀/၂ အထိ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉) မိုင် (၅.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရန်။<br><br>စဉ် / ယာဉ်အမျိုးအစား / လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း/ကျပ်<br>(က) (၁)တန်အောက်ယာဉ်ငယ်များ — ၄ကျပ် ၁၃ပြား<br>(ခ) (၁)တန်မှ(၃)တန်အထိယာဉ်များ — ၁၂ကျပ် ၃၉ပြား<br>(ဂ) (၅)တန်အောက်ကားကြီးများ — ၂၀ကျပ် ၆၅ပြား<br>(ဃ) (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီးများ — ၄၁ကျပ် ၃၀ပြား<br>(င) (၂၀)တန်ထိကုန်တင်ယာဉ်ကြီးများ — ၈၂ကျပ် ၅၉ပြား<br>(စ) (၂၀)တန်အထက်တန်ပို(၁)တန်လျှင် — ၈ကျပ် ၂၆ပြား<br><br>(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတားတည်ဆောက်သည့် ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။<br><br><br> |



<u>လျှို့ဝှက်</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| [illegible]-၁ | ၇၀၄ | (ဂ) စာမျက်နှာ(၃) အပိုဒ်(ဆ) " အေးရှားဝါး(လ်)ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းတစ်ခု လုံးအား တစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်။<br>(ဃ) လမ်း၊ တံတားများမှာ standard နှင့်အညီ ဖောက်လုပ်ထားပါက ရန်ကုန် - မန္တလေး အမြန်လမ်းမနှုန်းအတိုင် ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတား အသုံးပြုခ ကောက်ခံခွင့် မပြုရန်။ | |



ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ- ၁၄၆၃ / ၂၀၀၉(၁၀၈၀၁)၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ ဇူလိုင်လ ၂၄ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ ။ အေးရှားဝါး (လ်) ကုမ္ပဏီ လီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်း မကြီး ၏ ( ရေတာရှည် - ပျဉ်းမနား ) လမ်း အပိုင်း အား ပြုပြင် ဖောက်လုပ် ၍ လမ်း ၊ တံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အတွက် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် (Asia World Co., Ltd.) သည် ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး ၏ ရေတာရှည်- ပျဉ်းမနား လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ ယင်းအဆိုပြုချက်အား (၂၆-၆-၂၀၀၉) နေ့တွင် ကျင်းပ သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၂/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန်ဆုံးဖြတ်ခဲ့ပါသည်။ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် နှင့် ပဋိညာဉ်စာချုပ်(မူကြမ်း)တို့ ပါဝင်သော လုပ်ငန်း အဆိုပြုချက်ကို နောက်ဆက်တွဲ(က)ဖြင့် တင်ပြ ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၄၃) သန်းနှင့် နိုင်ငံတော် မှ ချေးငွေ ကျပ်သန်း (၁၀၀၀) အပါအဝင် စုစုပေါင်းကျပ်(၂၀၆၉၇.၃၀)သန်းဖြစ်ပါသည်။ ယင်းတွင် လမ်းဖောက်လုပ်မှု ကျပ် (၁၀၀၇၅.၆၀) သန်း ၊ တံတားတည်ဆောက်မှု ကျပ် (၁၀၆၁၉.၁၀)သန်း နှင့် ကုန်ကြမ်းပစ္စည်းများ တန်ဖိုး ကျပ်(၂.၆၀) သန်း (အမေရိကန် ဒေါ်လာ ၀. ၄၃ သန်း) ထည့်ဝင် ရင်းနှီး မည် ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၀. ၄၃) သန်းမှာ တံတား၏ သံမဏိသံဘောင် ဖိုး ဖြစ်ပြီး တင်သွင်းသုံးစွဲပြီးဖြစ်ပါသည်။ နိုင်ငံတော်မှ ချေးငွေကျပ်သန်း(၁၀၀၀)ကို တစ်နှစ်လျှင် (၁၇%)အတိုးဖြင့် Grace Period (၃)နှစ် အပါအဝင် (၁၃)နှစ် အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ပါသည်။

၃။ အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက်သည် ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်း ( မိုင်တိုင် ၁၉၄/၀ မှ ၂၂၁/၂ အထိ ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း ( ၁၂ မိုင် ၃.၅ ဖာလုံ ) စုစုပေါင်း (၃၉)မိုင် (၅.၅)ဖာလုံ ရှည်သော လမ်းအပိုင်းကို ပြုပြင် ဖောက်လုပ်မည် ဖြစ်ပါသည်။ အသွားခရီးနှင့်အပြန်ခရီးအတွက်မိုင်တိုင်(၁၉၈/၀)တွင်ဂိတ်(၁)ဂိတ် ထား၍ လမ်းတံတားအသုံးပြုခ

များကို ကောက်ခံမည် ဖြစ်ပါသည်။ အဆိုပြု လမ်းအပိုင်းတွင် တံတား(၄၂)စင်းနှင့် ရေပြွန်(၄၈)ခုကို တည်ဆောက်ခဲ့ရာ ပေ(၁၈၀)နှင့်အထက်ရှိသော တံတား(၂)စင်း ပါဝင်ပါသည်။အဆိုပါ လမ်းအပိုင်းသည် မူလက ဒဂုံ အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်က ဖောက်လုပ် ခဲ့သည့် လမ်းအပိုင်း ဖြစ်ပြီး (၁၂-၅-၂၀၀၇) နေ့မှစ၍ ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်က အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက်သို့လွှဲပြောင်းပေးခဲ့ခြင်းဖြစ်ပါသည်။

၄။ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးရှားဝါးလ်ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်(မူကြမ်း)ပါအဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (တည်ဆောက်ရေးကာလ) မှာ ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ လွှဲပြောင်းပေးခဲ့ သည့် (၁၂-၅-၂၀၀၇)နေ့မှ စ၍ (၃) နှစ် နှင့် ပေ(၁၀၀)နှင့် အထက်တံတားများ တည်ဆောက်ချိန်မှာ (၅)နှစ်ဖြစ်ပါသည်။

(ခ) လုပ်ငန်းသက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် မှ အောက်ပါ လမ်းအသုံးပြုခ နှုန်း များ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| **စဉ်** | **ယာဉ်အမျိုးအစား** | **လမ်းအသုံးပြုခနှုန်း (တစ်မိုင်နှုန်း/ကျပ်)** |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ် | ၄.၁၃ |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်ငယ် များ | ၁၂.၃၉ |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀.၆၅ |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁.၃၀ |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂.၅၉ |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈.၂၆ |

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် တစ်ပေလျှင်(၅)ပြားနှုန်းဖြင့်လမ်း၊တံတားကောက်ခံသည့်ဂိတ်တွင်တစ်ပေါင်းတည်း ကောက်ခံသွားမည်ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြားအလိုက် အောက်ပါသတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ် အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(စ) လမ်း တံတား အသုံးပြုခ ရငွေများ ကို နိုင်ငံတော် သို့ ပေးသွင်းရာ တွင် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ စာရင်းစစ်အဖွဲ့မှ ကောက်ခံရငွေများစာရင်းကို စစ်ဆေးပြီးနောက်နေ့မှ စ၍ ရက်ပေါင်း(၉၀) အတွင်း ပေးသွင်းရမည်ဖြစ်ပြီး သတ်မှတ်ရက်ထက် ကျော်လွန် ပေးသွင်း ပါက ရက်လွန် ဒဏ်ကြေးအဖြစ် (၁)ရက်လျှင် ပေးသွင်းရမည့် ငွေ (၁၀၀)ကျပ်အပေါ် (၁)ကျပ်နှုန်း အပိုဆောင်းပေးသွင်းရမည် ဖြစ်ပါသည်။

(ဆ) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအားတစ်ဆင့်လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့် ပြုနိုင်သည်။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေး ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့် ပုံမှန်နှစ်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၉၆.၂၇ သန်း |
| (ခ) လမ်းတံတားဖြတ်သန်းခရငွေ | ကျပ် | ၇၁.၉၈ သန်း |

၆။ လုပ်ငန်း၏အရင်းကြေကာလမှာ (၃၀) နှစ်နှင့် (၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁.၂၆) ရာခိုင်နှုန်းဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကို ပြည်တွင်းလုပ်သား(၃၁၄) ဦး ဖြင့်ဆောင်ရွက်မည်ဖြစ်ပါသည်။

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) | ၁။ဦးထွန်းမြင့်နိုင် (အုပ်ချုပ်မှု ဒါရိုက်တာ) | အမှတ်(၁၂၄)၊ အင်းစိန်လမ်း၊ ၈/၉ ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်။ |
| | | ၂။ဦးသန်းမြင့် (ဒါရိုက်တာ) | အမှတ်(၄၅- A)၊ ပြည်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်။ |
| | | ၃။ဦးမောင်ကျေး (ဒါရိုက်တာ) | အမှတ်(စီ - ၄)၊ မွန်မြတ်မေတ္တာအိမ်ရာ၊ တာမွေမြို့နယ်၊ရန်ကုန်။ |

| | | |
|---|---|---|
| ၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်အမှတ် | - | ၀၁-၂၂၅၂၇၁၊ ၂၂၀၀၇၄ |
| ကုမ္ပဏီ ဖက်စ်အမှတ် | - | ၀၁-၂၂၇၅၅၁၊ ၂၂၇၄၇၄ |
| ၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | - | အမှတ်(၆၁ ၊ ၆၂) ဗဟိုစည်အိမ်ယာ၊ ဝါးတန်းလမ်း လမ်းမတော် မြို့နယ်၊ |
| ၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်/ရာထူး | - | ဦးသန်းမြင့်(ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်ရမည့်လုပ်ငန်းများ | - | ဆောက်လုပ်ရေးလုပ်ငန်းများ |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ် နှင့် နေ့စွဲ | - | ၁၂၀/၁၉၉၂-၁၉၉၃ (၅-၆-၁၉၉၂) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - | (၃၁-၃-၂၀၁၀) |
| ၇။ ဘဏ်အမည် နှင့် ငွေစာရင်းအမှတ် | - | - |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ- ၁၄၆၃ / ၂၀၀၉(၁၀၈၀၁)၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ ဇူလိုင်လ ၂၄ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ ။ အေးရှားဝါး (လ်) ကုမ္ပဏီ လီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်း မကြီး ၏ ( ရေတာရှည် - ပျဉ်းမနား ) လမ်း အပိုင်း အား ပြုပြင် ဖောက်လုပ် ၍ လမ်း ၊ တံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အတွက် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် (Asia World Co., Ltd.) သည် ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး ၏ ရေတာရှည်- ပျဉ်းမနား လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ ယင်းအဆိုပြုချက်အား (၂၆-၆-၂၀၀၉) နေ့တွင် ကျင်းပ သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၂/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန်ဆုံးဖြတ်ခဲ့ပါသည်။ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက် နှင့် ပဋိညာဉ်စာချုပ်(မူကြမ်း)တို့ ပါဝင်သော လုပ်ငန်း အဆိုပြုချက်ကို နောက်ဆက်တွဲ(က)ဖြင့် တင်ပြ ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၄၃) သန်းနှင့် နိုင်ငံတော် မှ ချေးငွေ ကျပ်သန်း (၁၀၀၀) အပါအဝင် စုစုပေါင်းကျပ်(၂၀၆၉၇.၃၀)သန်းဖြစ်ပါသည်။ ယင်းတွင် လမ်းဖောက်လုပ်မှု ကျပ် (၁၀၀၇၅.၆၀) သန်း ၊ တံတားတည်ဆောက်မှု ကျပ် (၁၀၆၁၉.၁၀)သန်း နှင့် ကုန်ကြမ်းပစ္စည်းများ တန်ဖိုး ကျပ်(၂.၆၀) သန်း (အမေရိကန် ဒေါ်လာ ၀. ၄၃ သန်း) ထည့်ဝင် ရင်းနှီး မည် ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၀. ၄၃) သန်းမှာ တံတား၏ သံမဏိသံဘောင် ဖိုး ဖြစ်ပြီး တင်သွင်းသုံးစွဲပြီးဖြစ်ပါသည်။ နိုင်ငံတော်မှ ချေးငွေကျပ်သန်း(၁၀၀၀)ကို တစ်နှစ်လျှင် (၁၇%)အတိုးဖြင့် Grace Period (၃)နှစ် အပါအဝင် (၁၃)နှစ် အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ပါသည်။

၃။ အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက်သည် ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်း ( မိုင်တိုင် ၁၉၄/၀ မှ ၂၂၁/၂ အထိ ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း ( ၁၂ မိုင် ၃.၅ ဖာလုံ ) စုစုပေါင်း (၃၉)မိုင် (၅.၅)ဖာလုံ ရှည်သော လမ်းအပိုင်းကို ပြုပြင် ဖောက်လုပ်မည် ဖြစ်ပါသည်။ အသွားခရီးနှင့်အပြန်ခရီးအတွက်မိုင်တိုင်(၁၉၈/၀)တွင်ဂိတ်(၁)ဂိတ် ထား၍ လမ်းတံတားအသုံးပြုခ

များကို ကောက်ခံမည် ဖြစ်ပါသည်။ အဆိုပြု လမ်းအပိုင်းတွင် တံတား(၄၂)စင်းနှင့် ရေပြွန်(၄၈)ခုကို တည်ဆောက်ခဲ့ရာ ပေ(၁၈၀)နှင့်အထက်ရှိသော တံတား(၂)စင်း ပါဝင်ပါသည်။အဆိုပါ လမ်းအပိုင်းသည် မူလက ဒဂုံ အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်က ဖောက်လုပ် ခဲ့သည့် လမ်းအပိုင်း ဖြစ်ပြီး (၁၂-၅-၂၀၀၇) နေ့မှစ၍ ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်က အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက်သို့လွှဲပြောင်းပေးခဲ့ခြင်းဖြစ်ပါသည်။

၄။ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးရှားဝါးလ်ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်(မူကြမ်း)ပါအဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (တည်ဆောက်ရေးကာလ) မှာ ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ လွှဲပြောင်းပေးခဲ့ သည့် (၁၂-၅-၂၀၀၇)နေ့မှ စ၍ (၃) နှစ် နှင့် ပေ(၁၀၀)နှင့် အထက်တံတားများ တည်ဆောက်ချိန်မှာ (၅)နှစ်ဖြစ်ပါသည်။

(ခ) လုပ်ငန်းသက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် မှ အောက်ပါ လမ်းအသုံးပြုခ နှုန်း များ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း (တစ်မိုင်နှုန်း/ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ် | ၄.၁၃ |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်ငယ် များ | ၁၂.၃၉ |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀.၆၅ |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁.၃၀ |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂.၅၉ |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈.၂၆ |

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် တစ်ပေလျှင်(၅)ပြားနှုန်းဖြင့်လမ်း၊တံတားကောက်ခံသည့်ဂိတ်တွင်တစ်ပေါင်းတည်း ကောက်ခံသွားမည်ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ် အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(စ) လမ်း တံတား အသုံးပြုခ ရငွေများ ကို နိုင်ငံတော် သို့ ပေးသွင်းရာ တွင် ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း၏ စာရင်းစစ်အဖွဲ့မှ ကောက်ခံရငွေများစာရင်းကို စစ်ဆေး ပြီးနောက်နေ့မှ စ၍ ရက်ပေါင်း(၉၀) အတွင်း ပေးသွင်းရမည်ဖြစ်ပြီး သတ်မှတ်ရက် ထက် ကျော်လွန် ပေးသွင်း ပါက ရက်လွန် ဒဏ်ကြေးအဖြစ် (၁)ရက်လျှင် ပေးသွင်း ရမည့် ငွေ (၁၀၀)ကျပ်အပေါ် (၁)ကျပ်နှုန်း အပိုဆောင်းပေးသွင်းရမည် ဖြစ်ပါသည်။

(ဆ) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအားတစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့် ပြုနိုင်သည်။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလ များ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များ ကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေး ရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့် ပုံမှန်နှစ်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၉၆.၂၇ သန်း |
| (ခ) လမ်းတံတားဖြတ်သန်းခရငွေ | ကျပ် | ၇၁.၉၈ သန်း |

၆။ လုပ်ငန်း၏အရင်းကြေကာလမှာ (၃၀) နှစ်နှင့် (၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁.၂၆) ရာခိုင်နှုန်းဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကို ပြည်တွင်းလုပ်သား(၃၁၄) ဦး ဖြင့်ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ အခွန်အကောက် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားခွင့် ပေးရမည် ဖြစ်ပါသည်။

၉။ ဆုံးဖြတ်ရန်အချက်

အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ (ရေတာရှည် - ပျဉ်းမနား)လမ်းအပိုင်း(မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင် ၂၂၁/၂ အထိ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉)မိုင်(၅.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ



Asia World (Y-P) -TC

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် (Asia World Co., Ltd.) | ၁။ဦးထွန်းမြင့်နိုင် (အုပ်ချုပ်မှု ဒါရိုက်တာ) | အမှတ်(၁၂၄)၊ အင်းစိန်လမ်း၊ ၈/၉ ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်။ |
| | | ၂။ဦးသန်းမြင့် (ဒါရိုက်တာ) | အမှတ်(၄၅- A)၊ ပြည်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်။ |
| | | ၃။ဦးမောင်ကျေး (ဒါရိုက်တာ) | အမှတ်(စီ - ၄)၊ မွန်မြတ်မေတ္တာအိမ်ရာ၊ တာမွေမြို့နယ်၊ရန်ကုန်။ |

၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်အမှတ် - ၀၁-၂၂၅၂၇၁၊ ၂၂၀၀၇၄

ကုမ္ပဏီ ဖက်စ်အမှတ် - ၀၁-၂၂၇၅၅၃၊ ၂၂၇၄၇၄

၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ - အမှတ်(၆၁ ၊ ၆၂) ဗဟိုစည်အိမ်ယာ၊ ဝါးတန်းလမ်း လမ်းမတော် မြို့နယ်၊

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်/ရာထူး - ဦးသန်းမြင့်(ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်ရမည့်လုပ်ငန်းများ - ဆောက်လုပ်ရေးလုပ်ငန်းများ

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ် နှင့် နေ့စွဲ - ၁၂၀/၁၉၉၂-၁၉၉၃ (၅-၆-၁၉၉၂)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - (၃၁-၃-၂၀၁၀)

၇။ ဘဏ်အမည် နှင့် ငွေစာရင်းအမှတ် - -





ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉(ကုမ္ပဏီ)(စီ ၄၈၀၃)
ရက် စွဲ၊ ၂၀၀၉ခုနှစ် ဇူလိုင်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ရေတာရှည် - ပျဉ်းမနားနှင့် ပျဉ်းမနား - ရမည်းသင်းလမ်းအပိုင်း (၂) ခုတွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၉ ခုနှစ် ဇူလိုင်လ (၁၀) ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၉၆၇၊၉၇၀ / ၂၀၀၉ (၁၀၈၂၆)

၁။ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် အေးရှားဝေါလ်ကုမ္ပဏီလီမိတက် မှ ဆောင်ရွက်နေသော ရေတာရှည် - ပျဉ်းမနားလမ်းပိုင်းနှင့် ပျဉ်းမနား - ရမည်းသင်းလမ်းပိုင်းတို့၏ အဆိုပြုလွှာများနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးအမှတ်စဉ် (၂၂/၂၀၀၉) မှ အဆိုပြုလွှာများ၏ လုပ်ငန်း သက်တမ်းကာလကို Proposal ၏ တွက်ချက်မှုနှင့် စာချုပ်တွင် တစ်ပြေးညီဖြစ်စေရေး ပြင်ဆင် ရန်နှင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်း ကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ အဆိုပါလမ်းပိုင်း (၂) ပိုင်း၏ အဆိုပြုလွှာများအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော အဆိုပြုလွှာ (၂၈) စုံစီနှင့် ငွေကြေးလည်ပတ်မှု အခြေပြ ဇယား (၁)စောင်၊ Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၂) ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

D/DM P.g 233 (L)

(၃၀-၁-၂၀၀၉) နေ့ B.O.T အစည်းအဝေး ကျင်းပပြီးနောက် ရန်ကုန်-မန္တလေးပြည်ထောင်စုလမ်းမကြီးတွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ(နှစ်) | (၁)ရက်လျှင်သွားသည့်ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ထောက်ကြန့်-ပဲခူးလမ်း | မက်စ်မြန်မာ | *၂ | *၂၇ | ၅၀၀၀ | ၁ | ၁၁၃၁၄.၂၇၀ |
| ၂။ | ပဲခူး-ညောင်လေးပင် | ရွှေသံလွင် | ၁.၀၉ | ၃၃ | ၂၅၀၀ | ၁ | ၁၃၀၄၂.၄၃၄ |
| ၃။ | ညောင်လေးပင်-ဇေယျာဝတီလမ်း | ဟိုက်စတား | ၁.၆၂ | ၃၃ | ၁၂၉၀ | ၂ | ၁၁၄၀၂.၆၉၇ |
| ၄။ | ဇေယျာဝတီ-ရေတာရှည်လမ်း | ကမ္ဘောဇ | ၃.၆၈ | ၂၈/၂ | ၁၅၀၀ | ၁.၈ | ၂၇၁၀၇.၇၆၀ |
| ၅။ | ရေတာရှည်-ပျဉ်းမနားလမ်း | အေးရှားဝေါလ် | ၁.၃၃ | ၂၉/၆ | ၁၅၀၀ | ၁ | ၂၀၆၉၇.၂၉၇ |
| ၆။ | ပျဉ်းမနား-ရမည်းသင်း | အေးရှားဝေါလ် | ၀.၉၃ | ၃၂/၃ | ၁၅၀၀ | ၁ | ၂၂၁၀၉.၂၉၇ |
| ၇။ | ရမည်းသင်း-မိတ္ထီလာလမ်း | ယုဇန | ၉.၀၀ | ၃၂ | ၁၄၀၈ | ၁ | ၁၀၅၆၀.၀၀၀ |
| ၈။ | မိတ္ထီလာ-မန္တလေးလမ်း | သော်တာဝင်း | ၁.၀၈ | ၃၃ | ၂၄၅၀ | ၁ | ၅၅၇၇၅.၀၀၀ |

* မက်စ်မြန်မာကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသော ထောက်ကြန့်-ပဲခူးလမ်းပိုင်းအတွက် (၁-၄-၂၀၀၈) မှစ၍ စာချုပ်ချုပ်ဆို ဆောင်ရွက်သဖြင့် နှုန်းသစ်ဖြင့် တွက်ချက်ပြီး ကျန်ကုမ္ပဏီများ၏ လမ်းပိုင်းများအား နှုန်းဟောင်း နှုန်းသစ်ဖြင့် တွက်ချက်ထားခြင်းဖြစ်ပါသည်။

**(၃၀-၁-၂၀၀၉) နေ့ B.O.T အစည်းအဝေး ကျင်းပပြီးနောက် ရန်ကုန်-မန္တလေးပြည်ထောင်စုလမ်းမကြီးတွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား**

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေ ကာလ(နှစ်) | (၁)ရက်လျှင် သွားသည့် ယာဉ်စီးရေ | (၁)နှစ် ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ရေတာရှည်-ပျဉ်းမနားလမ်း | အေးရှားဝေါလ် | ၁.၂၆ | ၃၀/၁ | ၁၅၀၀ | ၁ | ၂၀၆၉၇.၂၉၇ |
| ၂။ | ပျဉ်းမနား-ရမည်းသင်း | အေးရှားဝေါလ် | ၀.၆၆ | ၃၄/၄ | ၁၅၀၀ | ၁ | ၂၂၁၀၉.၂၉၇ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ရက-၆(က)/မ-၉၆၇၊၉၇၀/၂၀၀၉ ( ၁၈၈၆ )
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇူလိုင် လ ၁၀ ရက်။

အကြောင်းအရာ။ ။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ရေတာရှည်-ပျဥ်းမနားနှင့် ပျဉ်းမနား-ရမည်းသင်းလမ်းအပိုင်း (၂)ခုတွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ ပြန်လည်တင်ပြလာခြင်း ကိစ္စ။

ရည် ညွှန်း ချက် ။ ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန ၏ (၂၇-၅-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ -၂/ ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၃၃၃၅)၊

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်း ကို (၂၆-၆-၂၀၀၉) နေ့တွင် ကျင်းပသော ဤကော်မရှင်၏ (၂၂/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ရေတာရှည်-ပျဉ်းမနားနှင့် ပျဉ်းမနား-ရမည်းသင်းလမ်းအပိုင်း (၂)ခုတွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ ပြန်လည် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်။

(က) BOTစနစ်ဖြင့် လမ်းလုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာများ၏ လုပ်ငန်း သက်တမ်းကာလကို Proposal ၏ တွက်ချက်မှုနှင့် စာချုပ်တွင် တစ်ပြေးညီ ဖြစ်စေရေး ပြင်ဆင်ရန်၊

(ခ) ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ရေတာရှည်-ပျဉ်းမနား နှင့် ပျဉ်းမနား - ရမည်းသင်း လမ်းအပိုင်း (၂)ခု၏ ဆောင်ရွက်ခွင့် အဆိုပြုချက် နှင့် စပ်လျဉ်း၍ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရန် လမ်းအပိုင်း (၂)ခု၏ အဆိုပြုလွှာ (၂၈)စုံစီ ကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

ဝန်ကြီးရုံး၊
ဆောက်လုပ်ရေး ဝန်ကြီးဌာန။

မိတ္တူ-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

(၂) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်၊

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ရက -၁/မ-၇၀၆/၂၀၀၉(၃၀၄၂)။
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ၊ ဧပြီ လ၂ ရက် ။

အကြောင်းအရာ ။ ။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း (၈)ပိုင်း အား BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာ (၈)ခုကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏(၁၃-၃-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ခွဲ- ၂/ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၁၂၂၀)။

၁။ အထက် အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခြင်းကို (၂၆-၃-၂၀၀၉) နေ့ တွင် ကျင်းပသော ဤကော်မရှင်၏ (၁၁/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေး မှ "ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ လမ်းအပိုင်း (၈)ပိုင်း အား ကုမ္ပဏီ (၇)ခု သို့ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ကြပါသည်"-

(က) လမ်းတံတားအသုံးပြုခ ကောက်ခံနှုန်းအား ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အထက်အဖွဲ့အစည်း၏ လမ်းညွှန်ချက်နှင့် ကိုက်ညီမှု ရှိရေးအတွက် တွက်ချက်သတ်မှတ်ပေးရန်။

(ခ) လုပ်ငန်းအဆိုပြုချက်များ၏ ဝင်ငွေ တွက်ချက်ရာတွင် တည်ဆောက်ရေး ကာလ (၃)နှစ် နှင့် BOT သက်တမ်းကာလ (၄၀) နှစ် ဖြင့် စုစုပေါင်း (၄၃)နှစ် အတွက် တွက်ချက်တင်ပြရန်။

(ဂ) ပြည်တွင်းချေးငွေရယူခြင်းအတွက် ပေးရသည့် အတိုးနှုန်းကို နိုင်ငံတော်ပိုင် မြန်မာ့စီးပွားရေးဘဏ်မှ သတ်မှတ်နှုန်းဖြင့် တပြေးညီ တွက်ချက်ရန်။

(ဃ) အဆိုပြုလုပ်ငန်းများ၏ တည်ဆောက်ရေးကာလ (၃)နှစ်နှင့် စီးပွားဖြစ် လုပ်ငန်းစတင်သည့် နေ့မှ(၃)နှစ် တို့ကို ဌာနမှ သတ်မှတ်ပေးရန်။

(င) လုပ်ငန်းသုံးစက်ပစ္စည်းများ၊ လောင်စာဆီ/ ချောဆီ၊ လုပ်ငန်းသုံးယာဉ်/ လူစီးယာဉ်များ တင်သွင်းရန် လိုအပ်ပါက ဆောက်လုပ်ရေးဝန်ကြီးဌာနမှ စိစစ်ထောက်ခံပေးပါရန်။

(စ) အထက်ပါအချက်များ ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြရန်။

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

ဝန်ကြီးရုံး
ဆောက်လုပ်ရေး ဝန်ကြီးဌာန။

မိတ္တူ-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
 ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း။
(၂) မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်။
(၃) ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်။
(၄) ဟိုက်စတား ကုမ္ပဏီလီမိတက်။
(၅) ကမ္ဘောဇလမ်းကြောင်းရှာဖွေရေး စက်မှုလုပ်ငန်းများလီမိတက်။
(၆) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်။
(၇) ယုဇနကုမ္ပဏီလီမိတက်။
(၈) သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၉) ရုံးလက်ခံ/မျှောစာတွဲ။

ကော်မရှင်၏ ~~၁၄~~ ၁၁/၂၀၀၉ အစည်းအဝေး

အကြောင်းအရာ။ ။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း (၈)ပိုင်း အား BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာ (၈)ခုကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းကိစ္စ။

၁။ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီးတွင် ကုမ္ပဏီ (၇)ခုမှ BOT စနစ်ဖြင့် ဆောင်ရွက်မည့် အောက်ပါလမ်းအပိုင်း(၈)ပိုင်းနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုလွှာများ တင်ပြလာခြင်း ဖြစ်ပါသည်။

(က) ထောက်ကြံ့- ပဲခူးလမ်းအပိုင်း (ထောက်ကြံ့- ဇရပ်ကွင်းအပိုင်း မိုင်တိုင် ၁/၀ မှ ၁၄/၆ အထိ ၁၃မိုင် ၆ဖာလုံ နှင့် ဇရပ်ကွင်း -ပဲခူး အပိုင်း မိုင်တိုင် ၃၁/၀ မှ ၅၀/၀ အထိ ၁၉ မိုင် စုစုပေါင်း ၃၂ မိုင် ၆ဖာလုံ)(မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) ပဲခူး-ညောင်လေးပင် လမ်းအပိုင်း (မိုင်တိုင် ၅၀/၀ မှ ၉၈/၀အထိ ၄၈ မိုင်) (ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်)

(ဂ) ညောင်လေးပင် - ဖေယျာဝတီလမ်းအပိုင်း (မိုင်တိုင်၉၈/၀မှ၁၄၆/၀အထိ၄၈မိုင်) (ဟိုက်စတားကုမ္ပဏီလီမိတက်)

(ဃ) ဖေယျာဝတီ-ရေတာရှည်လမ်းအပိုင်း (မိုင်တိုင်၁၄၆/၀မှ ၁၉၄/၀အထိ ၄၈မိုင်) (ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများလီမိတက်)

(င) ရေတာရှည်-ပျဉ်းမနားလမ်းအပိုင်း (မိုင်တိုင် ၁၉၄/၀မှ ၂၂၁/၂အထိ (၂၇မိုင် ၂ဖာလုံ)နှင့်မြို့ရှောင်လမ်း(၁၂မိုင်၃.၅ဖာလုံ)စုစုပေါင်း (၃၉)မိုင် (၅.၅)ဖာလုံ) (အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်)

(စ) ပျဉ်းမနား-ရမည်းသင်းလမ်းအပိုင်း (မိုင်တိုင်၂၄၈/၀ မှ ၂၉၀/၀အထိ(၄၂) မိုင် နှင့် ပျဉ်းမနား မြို့ရှောင်လမ်း (၃မိုင်၄.၅ဖာလုံ) စုစုပေါင်း (၄၅) မိုင် (၄.၅) ဖာလုံ) (အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်)

(ဆ) ရမည်းသင်း-မိတ္ထီလာလမ်းအပိုင်း(မိုင်တိုင် ၂၉၀/၀မှ ၃၃၈/၀အထိ ၄၈ မိုင်) (ယုဇနကုမ္ပဏီလီမိတက်)

(ဇ) မိတ္ထီလာ-မန္တလေးလမ်းအပိုင်း(မိုင်တိုင် ၃၃၈/၀ မှ ၄၂၂/၅ အထိ ၈၄မိုင် ၅ဖာလုံ) (သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

၂။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြထားချက်များမှာ-

(က) ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီးတွင် BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်လျက်ရှိသော ကုမ္ပဏီ (၇)ခု တို့၏ လုပ်ငန်းညှိနှိုင်းအစည်းအဝေး ကို ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ် မြင့်သိန်း ဦးစီး၍ (၃၀-၁-၂၀၀၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့ပါကြောင်း၊

(ခ) ကုမ္ပဏီများအလိုက် ပြင်ဆင်ရန်ရှိသော အဆိုပြုလွှာများ၊ ရှေ့နေချုပ်ရုံးမှ အတည်ပြုထားသော စာချုပ်ပါအတိုင်း ပြုစုထားမှုများ နှင့် ငွေကြေး လည်ပတ်မှုများအား စိစစ်ပြင်ဆင်၍ ကော်မရှင်သို့ ဆက်လက်ပေးပို့ရေး ဆောင်ရွက်ရန် ညွှန်ကြားခဲ့ပါကြောင်း၊

(ဂ) အဆိုပါ ညှိနှိုင်းအစည်းအဝေး လမ်းညွှန်မှုအရ ကုမ္ပဏီများမှ အဆိုပြုလွှာများ နှင့်ငွေကြေးလည်ပတ်မှု အခြေအနေများအား ပြန်လည် တင်ပြလာခြင်း အပေါ် ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြ အတည်ပြုချက် ရယူ ပေးပို့နိုင်ပါရန် တင်ပြ အစီရင်ခံ အပ်ပါကြောင်း ဖော်ပြထားပါသည်။

၃။ ဌာနမှပေးပို့လာသည့် ကုမ္ပဏီများ၏ BOT စနစ်ဖြင့် လမ်းလုပ်ငန်းအဆိုပြုလွှာများ နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်အရ ပြင်ဆင်ထားသည့် BOT ပဋိညာဉ်စာချုပ်များ အပေါ် အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

(က) တည်ဆောက်ရေး ကာလမှာ (၃)နှစ်ဖြစ်ပါသည်။ BOT သက်တမ်းကာလမှာ တည်ဆောက်ရေးကာလပြီးနောက် နှစ်(၄၀) ဖြစ်ပါသည်။

(ခ) ထောက်ကြံ့-ပဲခူးလမ်းအပိုင်း(မက်စ်(မြန်မာ))အတွက် (၁-၄-၂၀၀၈) နေ့မှ စ၍ စာချုပ်ချုပ်ဆို ဆောင်ရွက်သဖြင့် တည်ဆောက်ရေး ကာလသည် (၁-၄-၂၀၀၈) နေ့မှ စတင်ပြီး ကောက်ခံနှုန်းသစ်ဖြင့် တွက်ချက်ထားပါသည်။

(ဂ) ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်း (အေးရှားဝါး(လ်)) ကို (၁၂-၅-၂၀၀၇) နေ့မှစ၍ ဒဂုန်အင်တာနေရှင်နယ်ထံမှ လွှဲပြောင်းယူခဲ့သဖြင့် တည်ဆောက်ရေး ကာလသည် (၁၂-၅-၂၀၀၇) နေ့မှစတင်ပါသည်။

(ဃ) ကျန်လမ်းအပိုင်း (၆)ပိုင်း အတွက် နယကလမ်းချော်အစည်းအဝေးမှ ဆုံးဖြတ်သည့် လုပ်ငန်းစတင်နေ့မှာ (၁-၁၀-၂၀၀၂) နေ့ဖြစ်သဖြင့် တည်ဆောက်ရေး ကာလသည် (၁-၁၀-၂၀၀၂) နေ့မှ စတင်ပါသည်။

(င) လမ်းအသုံးပြုခ ကောက်ခံနှုန်းသစ်ဖြင့် (၂၀၀၈) ခုနှစ်၊ ဧပြီလ မှ စတင် ကောက်ခံခွင့် ပြုခဲ့ပါသည်။ ကုမ္ပဏီများမှ ဝင်ငွေ တွက်ချက်ရာတွင် (၂၀၀၈) ခုနှစ်၊ မတ်လကုန်ထိ (၁-၁၀-၂၀၀၂ မှ ၃၁-၃-၂၀၀၈ အထိ) ကာလကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှုန်း (နှုန်းဟောင်း) ဖြင့် တွက်ချက်ပြီး (၂၀၀၈)ခုနှစ်၊ ဧပြီလမှစ၍ BOT စနစ်(ကောက်ခံမှုနှုန်းသစ်)ဖြင့် တွက်ချက် တင်ပြထားပါသည်။ (တည်ဆောက်ရေးကာလ(၃)နှစ် တွင်လည်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှုန်းဖြင့် လမ်းအသုံးပြုခ ကောက်ခံခဲ့ သောကြောင့် ကုမ္ပဏီများအနေဖြင့် ဝင်ငွေ ရရှိကြောင်း တွေ့ရပါသည်။)

(စ) လမ်းလုပ်ငန်းများ စတင်သည့်နေ့မှ စ၍ တည်ဆောက်ရေး ကာလ(၃)နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ ကုန်ဆုံးပြီးနောက် ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ကိုလည်းကောင်း၊ ဆောက်လုပ် ရေး ဝန်ကြီးဌာန လမ်းလုပ်ငန်း သဘာဝအရ ပထမ (၃)နှစ် ကောက်ခံရငွေ ကို လည်း ကင်းလွတ်ခွင့် (၃)နှစ်ဖြင့်လည်းကောင်း တွက်ချက်ထားကြောင်း တွေ့ရှိရ ပါသည်။

(ဆ) ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၁/၂၀၀၈) (၁၂-၃-၂၀၀၈) အစည်းအဝေးမှ လမ်းညွှန်ခဲ့သည့် အောက်ပါလမ်းအသုံးပြုခ ကောက်ခံနှုန်းသစ်( BOT **စနစ်**) ဖြင့်အဆိုပြုလွှာများတွင် တွက်ချက်ထားပါသည်။

| | | ကောက်ခံမည့်တစ်မိုင်နှုန်း |
|---|---|---|
| (က) | (၁)တန်အောက်ယာဥ်ငယ်များ | ၅- ၀၈ါး |
| (ခ) | (၁)တန်မှ(၃)တန်အထိယာဥ်များ | ၆၀-၂၅ါး |
| (ဂ) | (၅)တန်အောက်ကားကြီးများ | ၁၀ိ-၄၂ါး |
| (ဃ) | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီးများ | ၂၀ိ-၈၃ါး |
| (င) | (၂၀)တန်အထိကုန်တင်ယာဥ်ကြီးများ | ၄၁ိ-၆၇ါး |
| (စ) | (၂၀)တန်အထက်တန်ပို(၁)တန်လျှင် | ၂၀ိ/- |

(ဇ) ကောက်ခံရငွေမှ နိုင်ငံတော်သို့ ပေးသွင်းရမည့် နှုန်းများကိုလည်း ပဋိညာဥ် စာချုပ်တွင် အောက်ပါအတိုင်း ထည့်သွင်းရေးဆွဲထားပါသည်။

| | | |
|---|---|---|
| (က) | ပထမ(၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) | ၄နှစ်မြောက်မှ၁၃နှစ်မြောက်အထိ(၁၀)နှစ် | ၅%ပေးသွင်းရန်။ |
| (ဂ) | ၁၄နှစ်မြောက်မှ၂၃နှစ်မြောက်အထိ(၁၀)နှစ် | ၁၀%ပေးသွင်းရန်။ |
| (ဃ) | ၂၄နှစ်မြောက်မှ၃၃နှစ်မြောက်အထိ(၁၀)နှစ် | ၁၅%ပေးသွင်းရန်။ |
| (င) | ၃၄နှစ်မြောက်မှ၄၀နှစ်မြောက်အထိ(၇)နှစ် | ၂၀%ပေးသွင်းရန်။ |

(ဈ) တံတားအသုံးပြုခ ကောက်ခံမှုနှင့် စပ်လျဥ်း၍ ကုမ္ပဏီ၏ စရိတ်ဖြင့် တည်ဆောက်သည့် ပေ(၁၀၀) ကျော်သည့် တံတားများ အတွက်သာ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ သတ်မှတ်သည့် နှုန်းဖြင့် တံတားအသုံးပြုခ ကောက်ခံမှုဖြင့် တွက်ချက်တင်ပြထားပါသည်။

(ည) လုပ်ငန်းအဆိုပြုလွှာများ အရ ကုမ္ပဏီများ၏ ရင်းနှီးမြှုပ်နှံမှု၊ အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) ၊ နှင့် အရင်းကြေကာလတို့ကို အောက်ပါအတိုင်း တင်ပြထားပါသည်။

| စဉ် | လမ်းအပိုင်း/ ကုမ္ပဏီ | ရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) | IRR (ရာခိုင်နှုန်း) | အရင်းကြေကာလ (နှစ်) |
|---|---|---|---|---|
| (၁) | ထောက်ကြံ့-ပဲခူးလမ်း (မက်စ်မြန်မာ) | ၁၁၃၁၄ | ၂.၀၀ | ၂၇ |
| (၂) | ပဲခူး-ညောင်လေးပင် လမ်း (ရွှေသံလွင်) | ၁၃၀၄၂ | ၁.၀၉ | ၃၃ |
| (၃) | ညောင်လေးပင်-ဇေယျာဝတီလမ်း (ဟိုက်စတား) | ၁၁၄၀၂ | ၁.၆၂ | ၃၃ |
| (၄) | ဇေယျာဝတီ-ရေတာရှည်လမ်း (ကမ္ဘောဇ) | ၂၇၁၀၇ | ၂.၆၈ | ၂၅ နှစ်၆လ |
| ၅။ | ရေတာရှည်-ပျဉ်းမနားလမ်း (အေးရှားဝါးလ်) | ၂၀၆၉၇ | ၁.၃၃ | ၂၉နှစ်၆လ |
| ၆။ | ပျဉ်းမနား-ရမည်းသင်းလမ်း (အေးရှားဝါးလ်) | ၂၂၁၀၉ | ၀.၉၃ | ၃၂နှစ်၃လ |
| ၇။ | ရမည်းသင်း-မိတ္ထီလာလမ်း (ယုဇန) | ၁၀၅၆၀ | ၅.၀၀ | ၂၂ |
| ၈။ | မိတ္ထီလာ-မန္တလေးလမ်း (သော်တာဝင်း) | ၅၅၇၇၅ | ၁.၀၈ | ၃၃ |

(ဋ) အချို့လမ်းအပိုင်း အဆိုပြုလွှာများတွင် လုပ်ငန်းသုံး စက်ပစ္စည်းများ လုပ်ငန်း သုံးယာဉ်နှင့်လုပ်ငန်းသုံး လူစီးယာဉ်များ တင်သွင်းခွင့် တင်ပြထားပါသည်။ အဆိုပြုလွှာအချို့တွင်မူ တင်သွင်းပြီးကြောင်း ဖော်ပြထားပါသည်။

၄။ စိစစ်တင်ပြချက်

(က) ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး လမ်းအပိုင်းကို ကုမ္ပဏီ(၇)ခုအား လုပ်ကိုင်ခွင့်အတွက် (၁၆-၁၂-၂၀၀၄) ရက်စွဲပါစာဖြင့် လည်းကောင်း၊ အဆိုပြုလွှာများကို (၂၈-၉-၂၀၀၅) ရက်စွဲပါ စာဖြင့် လည်းကောင်း ဤကော်မရှင်သို့ တင်ပြခဲ့ပါသည်။ ယင်းအဆိုပြုလွှာ များကို လမ်းအသုံးပြုခ ကောက်ခံနှုန်း အပါအဝင် သတ်မှတ်ချက်များ ကိုက်ညီ အောင်ဆောင်ရွက်ခဲ့ပါသည်။

(ခ) အဆိုပါ လမ်းအပိုင်းများတွင် မန္တလေး-နောင်ချို လမ်းနှုန်းများ အတိုင်း ကောက်ခံခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြချက်ကို MIC ၏ (၃၁/၂၀၀၇) (၂၄-၈-၂၀၀၇) နှင့် TC ၏ (၃၁/၂၀၀၇) (၁၉-၉-၂၀၀၇) အစည်းအဝေးများသို့ တင်ပြခဲ့ရာ TC မှ ပြန်လည်ရုပ်သိမ်းခွင့်ပြုခဲ့ပါသည်။

(ဂ) ထို့နောက် TC ၏ (၁၂/၂၀၀၈) (၁၈-၃-၂၀၀၈) မှ နှုန်းသစ်ဖြင့် ခွင့်ပြုချက် အရ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ (၂၀၀၈) ခုနှစ်၊ ဒီဇင်ဘာလတွင် လမ်းလုပ်ငန်း အဆိုပြုလွှာများ ပြန်လည်တင်ပြခဲ့ပါသည်။

(ဃ) (၄-၁-၂၀၀၉) နေ့တွင် ရန်ကုန်-မန္တလေး လမ်းအပိုင်းများနှင့် စပ်လျဉ်းသည့် စိစစ်ချက်များ အပေါ် ကြိုတင်ညှိနှိုင်း ဆွေးနွေးမှုများကို ပြုလုပ်ခဲ့ပြီး ကော်မရှင် ၏ (၁/၂၀၀၉)(၁၄-၁-၂၀၀၉) အစည်းအဝေးတွင် အတည်ပြုချက်ရယူခဲ့ ပါသည်။

(င) အဆိုပါဆွေးနွေးအတည်ပြုချက်များအပေါ် အခြေခံကာ ဆောက်လုပ်ရေး ဝန်ကြီး ဌာနနှင့် လုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီတို့ ညှိနှိုင်း၍ လုပ်ငန်း အဆိုပြုလွှာများ ပြင်ဆင်တင်ပြလာခြင်း ဖြစ်ပါသည်။

(စ) ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ယခုစိစစ်တင်ပြချက်များအရ (၁-၁၀-၂၀၀၂) မှ လုပ်ငန်းစတင်သည့် လမ်းအပိုင်း (၆)ပိုင်း၏ တည်ဆောက်ရေး ကာလ(၃) နှစ်မှာ (၁-၁၀-၂၀၀၂)မှ (၃၀-၉-၂၀၀၅) နေ့အထိ ဖြစ်ပါသည်။ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားခြင်းနှင့် ဆောက်လုပ်ရေးဝန်ကြီးဌာန လမ်းလုပ်ငန်း သဘာဝအရ ကင်းလွတ်ခွင့် ခံစားခြင်း ကာလ (၃)နှစ် မှာ (၁-၁၀-၂၀၀၅) မှ (၃၀-၉-၂၀၀၈) နေ့အထိ ဖြစ်ပါသည်။ ထို့ကြောင့် ရင်းနှီး မြှုပ်နှံမှု ဥပဒေအရ (၁-၁၀-၂၀၀၅) နေ့ကို စီးပွားဖြစ် စတင် သည့်နေ့ အဖြစ် သတ်မှတ်ရပါမည်။

(ဆ) ကုမ္ပဏီများအတွက် အဆိုပါခံစားခွင့် ကာလများမှာ ကုန်ဆုံးပြီး ဖြစ်ပါသည်။ ကော်မရှင်၏ ခွင့်ပြုမိန့်တွင် (၁-၁၀-၂၀၀၅) နေ့ကို စီးပွားဖြစ် စတင်သည့် နေ့ဟု သတ်မှတ် ထုတ်ပြန်ပေးရမည် ဖြစ်ပါသည်။ ထို့ကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလသည် (၃၀-၉-၂၀၀၈) နေ့တွင် ကုန်ဆုံးပါသည်။

(ဇ) အထက်ပါစိစစ် တင်ပြချက်များ အရ တည်ဆောက်ရေး ကာလအတွင်း Imported များ အတွက် DUTY FREE ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် နှင့် စီးပွားဖြစ်စတင်ပြီး (၃)နှစ်အတွင်း Imported များအတွက် DUTY FREE စသည့် ခံစားခွင့်တို့သည် (၃၀-၉-၂၀၀၈) နေ့တွင် ကုန်ဆုံးခဲ့ပြီးဖြစ်ပါသည်။

(ဈ) ထို့ကြောင့်(၃၀-၉-၂၀၀၈) နေ့မတိုင်မီ တည်ဆောက်ရေးကာလ (၃)နှစ် အတွင်းနှင့် စီးပွားဖြစ် ကာလ(၃)နှစ်အတွင်း တင်သွင်းခဲ့ခြင်းများအတွက် DUTY FREE ပေးရန် လိုအပ်ပါက ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ ထောက်ခံ ချက်ဖြင့် ခံစားခွင့်ပေးနိုင်ပါသည်။

(ည) ပုံမှန် ခံစားခွင့်များ ကုန်ဆုံးသည့် (၃၀-၉-၂၀၀၈) နောက်ပိုင်းတင်သွင်းရန် (To Be Imported) များအတွက် DUTY FREE ခံစားခွင့် ကိုသီးခြားစဉ်းစား ပေးရပါမည်။

(ဋ) ညောင်လေးပင်-ဇေယျဝတီလမ်းအပိုင်း ဆောင်ရွက်သည့် ဟိုက်စတား ကုမ္ပဏီ လီမိတက်မှ လုပ်ငန်းသုံး လူစီးယာဉ်များ တင်သွင်းခွင့် တင်ပြထားရာ အဆိုပြု လုပ်ငန်းတွင် သုံးစွဲရန် လိုအပ်ကြောင်း ဌာနမှ ထောက်ခံ တင်ပြ ပေးရပါမည်။

၅။ သို့ဖြစ်ပါ၍ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ လမ်းအပိုင်း(၈)ပိုင်းအား ကုမ္ပဏီ(၇)ခုသို့ BOT စနစ်ဖြင့် လုပ်ကိုင်ခွင့် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြခြင်း အပေါ် စီးပွားရေးဆိုင်ရာ အမိကအချက်များကို နှိုင်းယှဉ်ဇယားဖြင့် ပူးတွဲဖော်ပြလျှက် လမ်းညွှန်မှု ခံယူအပ်ပါသည်။



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉(ကုမ္ပဏီ)(စီ ၁၂၂၀)
ရက် စွဲ၊ ၂၀၀၉ ခုနှစ် မတ်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများမှ အဆိုပြုလွှာနှင့် ငွေကြေးလည်ပတ်မှု အခြေအနေ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီ (၇)ခုတို့၏ လုပ်ငန်းညှိနှိုင်း အစည်းအဝေးအား ဝန်ကြီးရုံး အစည်းအဝေးခန်းမ၌ ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ်မြင့်သိန်းဦးစီး၍ ၂၀၀၉ခုနှစ် ဇန်နဝါရီလ (၃၀)ရက်နေ့တွင် ကျင်းပ ပြုလုပ်ခဲ့ပြီး ကုမ္ပဏီများအလိုက် ပြင်ဆင်ရန်ရှိသော အဆိုပြုလွှာများ ရှေ့နေချုပ်ရုံးမှ အတည်ပြုထားသော စာချုပ်ပါအတိုင်း ပြုစုထားမှုများနှင့် ငွေကြေးလည်ပတ်မှုများအား စိစစ်ပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်ပေးပို့ရေး ဆောင်ရွက်ရန် ညွှန်ကြားခဲ့ပါသည်။

၂။ အဆိုပါ ညှိနှိုင်းအစည်းအဝေး လမ်းညွှန်မှုအရ ကုမ္ပဏီများမှ အဆိုပြုလွှာများနှင့် ငွေကြေးလည်ပတ်မှု အခြေအနေများအား ပြန်လည်တင်ပြလာခြင်းအပေါ် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီးဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြ အတည်ပြုချက် ရယူပေးနိုင်ပါရန် ရန်ကုန်-မန္တလေးပြည်ထောင်စု လမ်းမကြီးတွင် B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီ(၇)ခု၏ အဆိုပြုလွှာ(၈)စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင်နှင့်အတူ ပူးတွဲပေးပို့တင်ပြအစီရင်ခံအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

D/H/P.g 80 (L)